အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Fu Xing Tobacco Industrial Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စီးကရက်ထုတ်လုပ် တင်ပို့ ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Fu Xing Tobacco Industrial Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Fu Xing Tobacco Industrial Limited |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု<br>- ဦးအိုင်ထွန်း (မြန်မာ) ၅၀%<br>- ဒေါ်နန်းခင်ညွန့် (မြန်မာ) ၅၀% |
| | လုပ်ငန်းအမျိုးအစား | - စီးကရက်ထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၁၃၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း ၄၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | တည်ဆောက်မှုကာလ | - ၁ နှစ် |
| ၄။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၁၂,၉၈၅.၉၀ သန်း |
| | ထည့်ဝင်သည့်အမျိုးအစား | **ကျပ် (သန်း)** |
| | မြေ | ၂,၀၂၈.၆၀ |
| | အဆောက်အဦ | ၂,၇၉၄.၈၀ |
| | စက်ပစ္စည်း (ပြည်တွင်း) | ၂၆၀၀.၀၀ |
| | စက်ပစ္စည်း (ပြည်ပ ) | ၅,၂၀၃.၈၀ (US$ ၄.၀၀၃သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| | မော်တော်ယာဉ် (ပြည်တွင်း) | ၁၀၄.၀၀ |
| | မော်တော်ယာဉ်(ပြည်ပ ) | ၉၆.၂၀ (US$ ၀.၀၇၄သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| | ပရိဘောဂ | ၁၄၆.၀၀ |
| | ရုံးအသုံးအဆောင်ပစ္စည်း | ၁၂.၅၀ |
| | **စုစုပေါင်း** | **၁၂၉၈၅.၉၀ (US$ ၄.၀၇၆ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ အပါအဝင်)** |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ |
| ၈။ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း | **ထုတ်လုပ်မှု (Box) (1 Box/ 50 Carton)** / **ရောင်းဈေးနှုန်း (US$/ Box)** |
| | **စီးကရက်** | ၆၀,၀၀၀ / ၈၈.၀၀ |
| ၉။ | အခြားတင်ပြချက် | **ပြည်တွင်း** / **ပြည်ပ** |
| | | **ဝန်ထမ်းဦးရေ** ၇၉ ဦး / ၅ ဦး |
| | | **အမြင့်ဆုံးလစာ** ကျပ် ၁,၀၀၀,၀၀၀ / US$ ၁,၈၀၀ |
| | | **အနိမ့်ဆုံးလစာ** ကျပ် ၁၆၀,၀၀၀ / US$ ၁,၅၀၀ |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - ၁ US$ = ၁,၃၀၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။<br>- Fu Xing Tobacco Industrial Limited ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်အမှတ်- 1080/2017-2018 (နပတ) (၂၅-၇-၂၀၁၇) နှင့် ငွေကြေးအထောက်အထားအဖြစ် Fu Xing Tobacco Industrial Limited ၏ မိခင်ကုမ္ပဏီဖြစ်သည့် Fu Xing Brothers Co., Ltd. သည် Myanma Foreign Trade Bank တွင် ၂၂-၃-၂၀၁၈ နေ့စွဲဖြင့် ကျပ် ၈,၂၇၀,၇၆၀.၉၁ ရှိကြောင်း တင်ပြထားပါသည်။<br>- ၂-၂-၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင် ၂/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးမှ လုပ်ငန်း သည် သက်ဆိုင်ရာဌာနများ၏ ခွင့်ပြုချက်၊ လုပ်ငန်းလိုင်စင်များ ဖြင့် လက်ရှိဆောင်ရွက်ဆဲဖြစ်ပြီး ပြည်ပသို့ ရာခိုင်နှုန်းပြည့်တင်ပို့ ရောင်းချခြင်းဖြစ်၍ ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာဖြင့် တင်ပြလျှောက်ထားခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။<br>- ကုမ္ပဏီသည် လက်ရှိဆောင်ရွက်နေသည့် လုပ်ငန်းအတွက် စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင်၊ လျှပ်စစ်ဓာတ်အား အသုံးပြုခြင်းဆိုင်ရာ အန္တရာယ် ကင်းရှင်းကြောင်းလက်မှတ်၊ ရန်ကုန်မြို့တော် စည်ပင် သာယာရေး ကော်မတီ၏ လုပ်ငန်းလိုင်စင်ခွင့်ပြုချက်၊ ရန်ကုန် မြို့တော် စည်ပင်သာယာရေးကော်မတီ၊ ကျန်းမာရေးဌာန၏ ကျန်းမာရေးအန္တရာယ်ကင်းရှင်းကြောင်း ထောက်ခံချက်လက်မှတ် များ တင်ပြထားပါသည်။<br>- Fu Xing Tobacco Industrial Ltd. သည် မြန်မာနိုင်ငံသား ရင်းနှီး မြှုပ်နှံမှုဖြင့် အတည်ပြုမိန့် ရရှိပြီးပါက တရုတ်ပြည်သူ့ သမ္မတနိုင်ငံရှိ Yunnan Tobacco International Co., Ltd. နှင့် ပူးပေါင်း၍ ဖက်စပ်နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှု ဖြင့်ဆောင်ရွက်မည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။<br>- Win၊ Hang Ta Shan၊ Global၊ Yun Yan ကုန်အမှတ် တံဆိပ် များဖြင့် ထုတ်လုပ်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/အ-၁၄၆/၂၀၁၈( ၀၂၁ )

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Fu Xing Tobacco Industrial Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ စီးကရက် ထုတ်လုပ် တင်ပို့ ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးအိုင်ထွန်းမှ ၅၀% နှင့် ဒေါ်နန်းခင်ညွန့်မှ ၅၀% ထည့်ဝင်၍ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Fu Xing Tobacco Industrial Limited မှ မြေကွက်အမှတ် ၁၃၊ မြေတိုင်းရပ်ကွက်အမှတ် အပိုင်း ၄၊ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၈၉၈ ဧကတွင် စီးကရက် ထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြု လျှောက်ထားလွှာနှင့်အတူ အဆောက်အဦဓာတ်ပုံ၊ မြေဆိုင်ရာအထောက်အထား၊ အဆောက်အဦ ဓာတ်ပုံများ၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများနှင့်အတူ တည်ဆောက်ရေး ကာလ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၁၂၉၈၅.၉၀သန်း (US$ ၄.၀၇၆ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | **ကျပ်(သန်း)** | |
|---|---|---|
| မြေ | ၂,၀၂၈.၆၀ | |
| အဆောက်အဦ | ၂,၇၉၄.၈၀ | |
| စက်ပစ္စည်း (ပြည်တွင်း) | ၂၆၀၀.၀၀ | |
| စက်ပစ္စည်း (ပြည်ပ ) | ၅,၂၀၃.၈၀ | (US$၄.၀၀၃သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| မော်တော်ယာဉ်(ပြည်တွင်း) | ၁၀၄.၀၀ | |
| မော်တော်ယာဉ်(ပြည်ပ ) | ၉၆.၂၀ | (US$ ၀.၀၇၄သန်းနှင့်ညီမျှသောမြန်မာကျပ်ငွေ) |
| ပရိဘောဂ | ၁၄၆.၀၀ | |
| ရုံးအသုံးအဆောင်ပစ္စည်း | ၁၂.၅၀ | |
| **စုစုပေါင်း** | **၁၂၉၈၅.၉၀** | **(US$ ၄.၀၇၆ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ အပါအဝင်)** |

ကန့်သတ်

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၇၉ ဦးနှင့် ပြည်ပ ဝန်ထမ်း ၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၆၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁,၅၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁,၈၀၀ ဖြစ်ပါသည်။

၅။ လုပ်ငန်းမှထွက်ရှိသော စီးကရက်များကို ပြည်ပသို့ ရာခိုင်နှုန်းပြည့် တင်ပို့မည် ဖြစ်ပါသည်။ ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမျိုးအစား | ထုတ်လုပ်မှု (Box) (1 Box/ 50 Carton) | ရောင်းဈေးနှုန်း (US$/Box) |
|---|---|---|
| စီးကရက် | ၆၀,၀၀၀ | ၈၈.၀၀ |

၆။ ငွေကြေးအထောက်အထားအဖြစ် Fu Xing Tobacco Industrial Limited ၏ မိခင် ကုမ္ပဏီ ဖြစ်သည့် Fu Xing Brothers Co., Ltd. သည် Myanma Foreign Trade Bank တွင် ၂၂-၃-၂၀၁၈ နေ့စွဲဖြင့် ကျပ် ၈,၂၇၀,၇၆၀.၉၁ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၇။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) Corporate Social Responsibility (CSR) အစီအစဉ်ကိုလည်း တင်ပြထား ပါသည်။

(ဂ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၃/၂၀၁၇ အရ စီးကရက်ထုတ်လုပ်တင်ပို့ရောင်းချခြင်းလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီး မြှုပ်နှံမှု ကဏ္ဍတွင် မပါဝင်သဖြင့် ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များအား ခံစားခွင့်မရှိပါကြောင်းနှင့် အမိန့်ကြော်ငြာစာအမှတ် ၅၁/၂၀၁၄ အရ အကောက်ခွန် နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် မပေးသော အုပ်စုများတွင် ပါဝင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအမျိုးအစား ဖြစ်ကြောင်း စိစစ် တွေ့ရှိရပါသည်။

(ဃ) Fu Xing Tobacco Industrial Ltd. မှ စီးကရက်များအား ပြည်ပသို့၁၀၀% ထုတ်လုပ်တင်ပို့ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် လျှောက်ထားလာခြင်း ကိစ္စအား ၂-၂-၂၀၁၈ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးမှ လုပ်ငန်းသည် သက်ဆိုင်ရာဌာန များ၏ ခွင့်ပြုချက်၊ လုပ်ငန်းလိုင်စင်များဖြင့် လက်ရှိဆောင်ရွက်ဆဲဖြစ်ပြီး ပြည်ပသို့ ရာခိုင်နှုန်းပြည့်တင်ပို့ရောင်းချခြင်းဖြစ်၍ ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ ဖြင့် တင်ပြလျှောက်ထားခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

(င) ကုမ္ပဏီသည် လက်ရှိဆောင်ရွက်နေသည့် လုပ်ငန်းအတွက် စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်၊ လျှပ်စစ်ဓာတ်အား အသုံးပြုခြင်းဆိုင်ရာအန္တရာယ်ကင်းရှင်းကြောင်းလက်မှတ်၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ၏ လုပ်ငန်းလိုင်စင်ခွင့်ပြုချက်၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ကျန်းမာရေးဌာန၏ ကျန်းမာရေးအန္တရာယ် ကင်းရှင်းကြောင်း ထောက်ခံချက်လက်မှတ်များ တင်ပြထားပါသည်။

(စ) Fu Xing Tobacco Industrial Ltd. သည် မြန်မာနိုင်ငံသား ရင်းနှီး မြှုပ်နှံမှုဖြင့် အတည်ပြုမိန့်ရရှိပြီးပါက တရုတ်ပြည်သူ့ သမ္မတနိုင်ငံရှိ Yunnan Tobacco International Co., Ltd. နှင့် ပူးပေါင်း၍ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

(ဆ) Win၊ Hang Ta Shan၊ Global၊ Yun Yan ကုန်အမှတ် တံဆိပ်များဖြင့် ထုတ်လုပ်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၈။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Fu Xing Tobacco Industrial Limited မှ စီးကရက် ထုတ်လုပ် တင်ပို့ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ